ကုမ္ပဏီအမည် - Texchem Food (Myanmar) Ltd.

လုပ်ငန်း: - ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို တန်ဖိုးမြင့်ကုန်စည်အဖြစ် ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို လက်ခစား စနစ်ဖြင့် ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃-၂-၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန(ပထမအကြိမ်) | ၆-၂-၂၀၁၄ | ၁၀-၂-၂၀၁၄ | |
| | (ခ) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန(ဒုတိယအကြိမ်) | ၂၄-၂-၂၀၁၄ | ၁၀-၃-၂၀၁၄ | |
| | (ဂ) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၆-၂-၂၀၁၄ | ၂၄-၄-၂၀၁၄ | ၇၇ ရက် |
| | (ဃ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန | ၆-၂-၂၀၁၄ | ၂၈-၂-၂၀၁၄ | ၂၂ ရက် |
| | (င) မွေးမြူရေး၊ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန | ၆-၂-၂၀၁၄ | ၁၄-၂-၂၀၁၄ | ၈ ရက် |
| | (စ) CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီ | ၆-၂-၂၀၁၄ | ၃-၃-၂၀၁၄ | ၂၅ ရက် |
| | (ဆ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၀-၂-၂၀၁၄ | ၃-၃-၂၀၁၄ | ၂၁ ရက် |
| ၃ | PAT တင်ပြခြင်း | ၁၄-၂-၂၀၁၄ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၄-၂-၂၀၁၄ | | |
| ၅ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၁၉-၂-၂၀၁၄ | | |
| ၆ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင်အစည်းအဝေး (၇/၂၀၁၄) သို့ တင်ပြခြင်း | ၁၉-၂-၂၀၁၄ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး (၁၀/၂၀၁၄) သို့ တင်ပြခြင်း | ၇-၃-၂၀၁၄ | | |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ (၆/၂၀၁၄) သို့ တင်ပြခြင်း | ၂၀-၃-၂၀၁၄ | | |
| ၇ | ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ ပေးပို့ခြင်း | ၂၄-၄-၂၀၁၄ | | |
| ၈ | ၁၄/၂၀၁၄ ကော်မရှင် အစည်းအဝေးသို့ တင်ပြမည့်ရက် | ၁၄-၅-၂၀၁၄ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၈၀ ရက် | | |

ကုမ္ပဏီအမည် - Texchem Food (Myanmar) Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို တန်ဖိုးမြှင့် ကုန်စည်အဖြစ် ထုတ်လုပ်ခြင်း လုပ်ငန်းနှင့် ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို လက်ခစားစနစ်ဖြင့် ထုတ်လုပ်ခြင်း လုပ်ငန်း

တည်နေရာ - မြေကွက်အမှတ် ၃၀၇/၃၀၈(က)၊ အင်းလေးမြိုင်စက်မှုဇုန်၊ မြိတ်တောင်ကျေးရွာ၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၁.၅၃၀ သန်းနှင့် ကျပ် ၁၆၅.၄၁၀သန်း

ရောင်းချမည့်စနစ် - ၇၀% ပြည်ပသို့ တင်ပို့ခြင်း

၃၀% ပြည်တွင်းရောင်း

Contract Processing စနစ်ဖြင့် ပြည်ပသို့ ၁၀၀% တင်ပို့ခြင်း

လုပ်ငန်းသက်တမ်း - ၅၀နှစ်

အရင်းကြေကာလ - ၅ နှစ် ၁လ

IRR - ၁၇.၉၃%

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၄၈၀ သန်း | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ကျပ် ၀.၁ သိန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၄၈၅.၈၇၇ သန်း | |
| ၄ | ဝင်ငွေခွန် | | ကျပ် ၇၉၉.၄၅၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၈၈၀.၃၈၁ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၃၀၉၄.၆၅၈သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်းနှစ်ဆယ်ထက် ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၄၇) ဦး |
| ၈ | CSR (၂ %) | | ကျပ် ၄၇.၉၆၇ သန်း |
| ၉ | မြေနှင့်အဆောက်အဦ ငှားရမ်းခရငွေ | | ကျပ် ၃၃၄.၀၆၈ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၂၀၀ ဦး<br>ပြည်ပ ၂၀ ဦး<br>ပြည်တွင်းလုပ်သား (၁၂၀၀) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက် |

| | | | |
|---|---|---|---|
| | | | အကူပြုစေပါသည်။ |
| | | | အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၄၈၉.၃၅၇ သန်း | ကျပ် ၅၂၅၆.၆၂၄ သန်း |
| | | ၁ : ၁၀.၈ | |

အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုလုပ်ငန်းမှ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသို့ ပြောင်းရွှေ့ဆောင်ရွက်ခြင်းဖြစ်သည့်အတွက် အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ခံစားပြီးဖြစ်၍ ၁:၁၀ ရရှိခြင်းဖြစ်ပါသည်။ နိုင်ငံတော်အတွက် အကျိုးပိုမိုရရှိပါသည်။

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Texchem Food (Myanmar) Ltd. တည်ထောင်၍ ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို တန်ဖိုးမြှင့်ကုန်စည်အဖြစ် ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပင်လယ်ရေထွက် ကုန်ပစ္စည်းများ ကို လက်ခစား စနစ်ဖြင့် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Texchem Food (Myanmar) Ltd.<br>Mr. Fumihiko Konishi (ဂျပန်နိုင်ငံသား) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Mascot Industries Co.,Ltd (10%) (မြန်မာနိုင်ငံ)<br>Texchem Food Sdn. Bhd (90%) (မလေးရှားနိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို တန်ဖိုးမြှင့် ကုန်စည်အဖြစ် ထုတ်လုပ်ခြင်း လုပ်ငန်းနှင့် ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို လက်ခစားစနစ်ဖြင့် ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - တနင်္သာရီတိုင်းဒေသကြီး၊မြိတ်မြို့နယ်၊ မြိတ်တောင်ကျေးရွာ၊ အင်းလေးမြိုင် စက်မှုဇုန်၊ အကွက်အမှတ် ၃၀၇/၃၆၆(က)၊ ၃၀၇/၄၂၀ (ခ) |
| | မြေပိုင်ရှင် | - Mascot Industries Co., Ltd. |
| | မြေအကျယ်အဝန်း | - ၄.၀၄ ဧက (၁၆,၃၄၉.၃၁၄၄ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်ငှားရမ်းခ(စက်ရုံ၊ မြေ၊ အဆောက်အဦများ၊ တပ်ဆင်စက်များ အပါအဝင်) | - တစ်နှစ် ၁ စတုရန်းမီတာ ၂၉၁၉ ကျပ်နှုန်းဖြင့် တစ်နှစ် ငှားရမ်းခ ၄၇၇၂၃၆၄၉ကျပ် (ငှားရမ်းခကို ၅ နှစ်တစ်ကြိမ် ယခင်နှစ် ငှားရမ်းခနှုန်း၏ ၅% ထက် မပိုစေဘဲ ပြန်လည် ညှိနှိုင်းမည်။) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀နှစ် နှင့် နောက်ထပ် ၁၀နှစ် (၂) ကြိမ် သက်တမ်း တိုးမြှင့်ခွင့် |
| | တည်ဆောက်ရေးကာလ | - ၆ လ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁.၅၃သန်း နှင့် ကျပ် ၁၆၅.၄၁သန်း (စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ကျပ် ၁၆၅၄.၁၀ သန်း)<br>- အမေရိကန် ဒေါ်လာ ၁ဒေါ်လာလျှင် မြန်မာကျပ်ငွေ ၉၇၃ကျပ် ဖြင့်တွက်ချက်ပါသည်။ |

| | | |
|---|---|---|
| | ထည့်ဝင်သည့်အမျိုးအစား | |

| | နိုင်ငံခြား | | နိုင်ငံသား | စုစုပေါင်း |
|---|---|---|---|---|
| | US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်(သန်း) | ကျပ်(သန်း) |
| ငွေသား | ၀.၁၅၀ | ၁၄၅.၉၅၀ | ၃၇.၈၉၈ | ၁၈၃.၈၄၈ |
| ကနဦးကုန်ကြမ်းတန်ဖိုး | ၀.၈၆၆ | ၈၄၂.၆၁၈ | ၁၂၇.၅၁၂ | ၉၇၀.၁၃၀ |
| ပရိဘောဂပစ္စည်းများ | ၀.၀၁၅ | ၁၄.၅၉၅ | | ၁၄.၅၉၅ |
| စက်ပစ္စည်း | ၀.၄၉၉ | ၄၈၅.၅၂၇ | | ၄၈၅.၅၂၇ |
| **စုစုပေါင်း** | **၁.၅၃၀** | **၁၄၈၈.၆၉၀** | **၁၆၅.၄၁၀** | **၁၆၅၄.၁၀** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - ၁၂၂၀ ဦး |
| | ပြည်တွင်း | - ၁၂၀၀ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၇၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃၆၉,၀၀၀) |
| | ပြည်ပ | - ၂၀ ဦး(ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၆၈၁,၀၀၀ လစာနှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၁၆၇,၀၀၀ |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၃၀% နှင့် ပြည်ပ ၇၀% ရောင်းချပါမည်။<br>- Contract Processing စနစ်ဖြင့် ပြည်ပသို့ တင်ပို့ခြင်းကို ၁၀၀% ဆောင်ရွက်ပါမည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ပထမနှစ်) | - ကျပ် ၉၀၂၀.၁၆၆ သန်း(US$ ၆.၈၄ သန်း အပါအဝင်) |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ပထမနှစ်) | - ကျပ် ၈၈၅၅.၀၄၃ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ပထမနှစ်) | - ကျပ် ၁၆၅.၁၂၃ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ပထမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၅၅.၀၄၁ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၁၁၂.၄၀၃ သန်း |
| | အရင်းကြေကာလ | - ၅ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၇.၉၃ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၂,၀၀၀,၀၀၀ KW |
| ၁၁။ | CSR | - ၂% |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၁/န- ၉၅၉/၂၀၁၄ (၄၈၃၁ )
ရက်စွဲ၊ ၂၀၁၄ခုနှစ်၊ မေလ ၁၂ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Texchem Food (Myanmar) Ltd. တည်ထောင်၍ ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို တန်ဖိုးမြှင့်ကုန်စည်အဖြစ် ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို လက်စားစနစ်ဖြင့် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

၁။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ မြိတ်မြို့နယ်၊ မြိတ်တောင်ကျေးရွာ၊ အင်းလေးမြိုင်စက်မှုဇုန်၊ အကွက် အမှတ် ၃၀၇/၃၆၆(က)၊ ၃၀၇/၄၂၀(ခ) ရှိ မြေ ၄.၀၄ ဧက (၁၆,၃၄၉.၃၁၄၄ စတုရန်းမီတာ) နှင့် အဆောက်အဦ တို့ကို ငှားရမ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ပြည်တွင်းမှ ပင်လယ်ရေထွက် ကုန်ပစ္စည်း များကို ဝယ်ယူ၍ တန်ဖိုးမြှင့်ကုန်စည် (Value - Added Product)ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် လျှက်ရှိသော Mascot Industries Co., Ltd. အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပြောင်းလဲ ဆောင်ရွက်ခွင့် တင်ပြခဲ့ခြင်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ ၅/၂၀၁၄ (၅-၂-၂၀၁၄) အစည်းအဝေး မှ ခွင့်ပြုခဲ့ ပါသည်။

၂။ ယခုအခါ Mascot Industries Co., Ltd. သည် မလေးရှားနိုင်ငံမှ Texchem Food Sdn. Bhd. နှင့်ဖက်စပ်ရင်းနှီးမြှုပ်နှံမှု ပြုလုပ်၍ Texchem Food (Myanmar) Ltd. အမည်ဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုရန် တင်ပြခြင်းဖြစ်ပါသည်။

၃။ မြန်မာနိုင်ငံ Mascot Industries Co., Ltd. မှ(၁၀%) နှင့် မလေးရှားနိုင်ငံ Texchem Food Sdn. Bhd. မှ (၉၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Texchem Food (Myanmar) Ltd. တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ မြိတ်မြို့နယ်၊ မြိတ်တောင်ကျေးရွာ၊ အင်းလေးမြိုင်စက်မှုဇုန်၊ အကွက်အမှတ် ၃၀၇/၃၆၆(က)၊ ၃၀၇/၄၂၀(ခ) ရှိ မြေ ၄.၀၄ ဧက (၁၆,၃၄၉.၃၁၄၄ စတုရန်းမီတာ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို တန်ဖိုးမြှင့်ကုန်စည်အဖြစ် ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပင်လယ်ရေထွက် ကုန်ပစ္စည်းများ ကို လက်စား စနစ်ဖြင့် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၄။ အဆိုပြုချက်နှင့်အတူ Mascot Co., Ltd. အမည်ပေါက် မြေဂရန် အထောက်အထား တင်ပြထားပါ သည်။ မြေပိုင်ရှင် Mascot Industries Co., Ltd. နှင့် ဖက်စပ်ကုမ္ပဏီ Texchem Food (Myanmar) Ltd. တို့ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းစာချုပ်(မူကြမ်း)၊ Texchem Food Sdn. Bhd (မလေးရှားကုမ္ပဏီ) နှင့် Mascot Industries Co., Ltd. (မြန်မာကုမ္ပဏီ) တို့ကြား ချုပ်ဆိုမည့် ဖက်စပ်သဘောတူ စာချုပ်

(မူကြမ်း)များနှင့် Texchem Food (Myanmar) Ltd.၏ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း(မူကြမ်း) များကို တင်ပြထားပါသည်။

၅။ လုပ်ငန်းဆောင်ရွက်မည့် စက်ရုံမြေ ဧရိယာစုစုပေါင်းမှာ ၄.၀၄ ဧက (၁၆,၃၄၉.၃၁၄၄ စတုရန်းမီတာ) တွင် ဆောင်ရွက်ပြီး၊ ယင်းမြေပေါ်တွင် (၅၀.၀၃၄ မီတာ x ၁၆၅ မီတာ) တစ်ထပ်အဆောက်အဦ တစ်လုံးနှင့် (၄၉.၀၅၃ မီတာ x ၁၆၅ မီတာ) ရေခဲစက်ရုံ တစ်လုံး၊ စုစုပေါင်းစက်ရုံ ၂လုံး ပါဝင်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခအဖြစ် တစ်စတုရန်းမီတာလျှင် ကျပ် ၂,၉၁၉ နှုန်းဖြင့် စုစုပေါင်းငှားရမ်းခ ၄၇,၇၂၃,၆၄၉ ကျပ် ဖြစ်ပါသည်။ မြေငှားရမ်းမည့် သက်တမ်းမှာ ကနဦး ၅၀နှစ် နှင့် ၁၀နှစ် ၂ ကြိမ် သက်တမ်းတိုးမည် ဖြစ်ပါသည်။ ငှားရမ်းခနှုန်းထားများအား ၅ နှစ် တစ်ကြိမ် ပြန်လည်သုံးသပ်မည် ဖြစ်ကြောင်းနှင့် ငှားရမ်းခ တိုးမြှင့်ခြင်းသည် ယခင်နှစ် ငှားရမ်းခနှုန်း၏ ၅% ထက်မပိုစေရန် မြေငှားစာချုပ် တွင် ဖော်ပြထားပါသည်။

၆။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀နှစ် နှင့် ၁၀နှစ် ၂ ကြိမ် သက်တမ်းတိုး ခွင့်ပြုရန် တင်ပြထား ပါသည်။ တည်ဆောက်မှုကာလ (အဆောင်အဦများ ပြင်ဆင်ကာလ)မှာ (၆)လ ဖြစ်ပြီး၊ ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီး ၃ လအတွင်း စတင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ လုပ်ငန်း၏စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ကျပ် ၁၆၅၄.၁၀ သန်းတွင် ပြည်ပမှ US$ ၁.၅၃၀သန်း နှင့် ပြည်တွင်းမှ ကျပ်ငွေ ၁၆၅.၄၁၀ သန်း ထည့်ဝင်ပါသည်။ ပြည်ပမှ ငွေသား US$ ၀.၁၅၀ သန်း၊ ကနဦးကုန်ကြမ်းတန်ဖိုး US$ ၀.၈၆၆ သန်း၊ ပရိဘောဂ တန်ဖိုး US$ ၀.၀၁၅ သန်း နှင့် စက်ပစ္စည်းတန်ဖိုး US$ ၀.၄၉၉ သန်း ထည့်ဝင်ပြီး ပြည်တွင်းမှ ငွေသား ကျပ် ၃၇.၈၉၈ သန်း နှင့် ကနဦးကုန်ကြမ်းတန်ဖိုး ကျပ် ၁၂၇.၅၁၂ သန်း ထည့်ဝင် မည် ဖြစ်ပါသည်။

၈။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်း ၁၂၀၀ဦး နှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်း ၂၀ ဦး စုစုပေါင်း ၁၂၂၀ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၇၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၃၆၉,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၆၈၁,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၁,၁၆၇,၀၀၀ ဖြစ်ပါသည်။ ဝန်ထမ်းများကို ဆောင်ရွက်မည့် လုပ်ငန်းအမျိုးအစား နှစ်မျိုးအတွက် ခန့်အပ်ထားခြင်း ဖြစ်ပါသည်။

၉။ ပြည်တွင်းမှ ပင်လယ်ရေထွက်ကုန်ပစ္စည်းများကို ဝယ်ယူ၍ တန်ဖိုးမြှင့်ကုန်စည်(Value - Added Product)အဖြစ် ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်တွင်း၌ ၇၀% နှင့် ပြည်ပသို့ ၃၀% ရောင်းချမည် ဖြစ်ပါသည်။ ကုမ္ပဏီ၏ ပထမနှစ် ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | ရောင်းချမှု | | ဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်တွင်း(၃၀%) | ပြည်ပ(၇၀%) | ပြည်တွင်း | ပြည်ပ |
| I | Soft Shell Crab VAP | (Kg) | (Kg) | (ကျပ်/Kg) | (US$/ Kg) |
| 1 | SSC | ၅၇၆၀၀ | ၁၃၄၄၀၀ | ၉၃၄၁ | ၉.၆၀ |
| 2 | Smlcut SSC | ၂၁၆၀၀ | ၅၀၄၀၀ | ၁၀၁၁၉ | ၁၀.၄၀ |
| 3 | Brded SSC | ၁၈၀၀၀ | ၄၂၀၀၀ | ၁၁၅၃၀ | ၁၁.၈၅ |

| | | | | | |
|---|---|---|---|---|---|
| II | Squid VAP | | | | |
| 1 | SSM Squid Slice | ၄၃၂၀၀ | ၁၀၀၈၀၀ | ၉၀၄၉ | ၉.၃၀ |
| 2 | SSM Geso- Tsuki | ၂၈၈၀၀ | ၆၇၂၀၀ | ၇၅၄၁ | ၇.၇၅ |
| 3 | SSM Geso | ၂၁၆၀၀ | ၅၀၄၀၀ | ၆၂၂၇ | ၆.၄၀ |
| III | Prawn VAP | | | | |
| 1 | Sushi- Ebi | ၂၈၈၀၀ | ၆၇၂၀၀ | ၉၅၈၄ | ၉.၈၅ |
| 2 | Nobashi-Ebi | ၂၁၆၀၀ | ၅၀၄၀၀ | ၉၈၂၇ | ၁၀.၁၀ |
| 3 | Brded Shrimp | ၁၄၄၀၀ | ၃၃၆၀၀ | ၁၀၁၁၉ | ၁၀.၄၀ |

၁၀။ ပြည်ပမှအပ်နှံမည့် ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို လက်ခစားစနစ် (Contract Processing)ဖြင့် လုပ်ငန်း စတင်ဆောင်ရွက်မည့် ပထမနှစ် ထုတ်လုပ်မည့် ထုတ်လုပ်မှုနှင့် လက်ခနှုန်းထားများမှာ အောက်ပါ အတိုင်းဖြစ်ပါသည်။

**Contract Processing**

| | | ထုတ်လုပ်မှု(Kg) | လက်ခ(US$/Kg) |
|---|---|---|---|
| **I** | **Fish CP** | | |
| 1 | Salmon VAP | ၁၈၀၀၀၀ | ၀.၈၀ |
| 2 | Sal.Yaki | ၂၄၀၀၀၀ | ၀.၈၅ |
| 3 | H. Mackerel | ၂၄၀၀၀၀ | ၀.၇၅ |
| **II** | **Squid CP** | | |
| 1 | SSM Squid Slice | ၉၆၀၀၀ | ၂.၁၀ |
| 2 | SSM Geso-Tsuki | ၇၂၀၀၀ | ၁.၉၀ |
| 3 | SSM Geso | ၆၀၀၀၀ | ၁.၆၀ |
| **III** | **Prawn CP** | | |
| 1 | Sushi-Ebi | ၆၀၀၀၀ | ၁.၆၅ |
| 2 | Nobashi-Ebi | ၄၂၀၀၀ | ၁.၉၀ |
| 3 | Brded Shrimp | ၃၀၀၀၀ | ၃.၀၀ |

၁၁။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပထမနှစ်တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | ကျပ် ( သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၉,၀၂၀.၁၆၆ (US$ ၆.၈၄၅ သန်း အပါအဝင်) |
| (ခ) | အသုံးစရိတ် | ၈၈၅၅.၀၄၃ |
| (ဂ) | အသားတင်အမြတ် | ၁၆၅.၁၂၃ |

၁၂။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပထမနှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၅၅.၀၄၁ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၁၂.၄၀၃ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏

အရင်းကြေကာလ မှာ ၅ နှစ် ၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၇.၉၃ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၁ ဒေါ်လာလျှင် မြန်မာကျပ်ငွေ ၉၇၃ ကျပ်နှုန်းဖြင့် တွက်ချက် ထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** အဆိုပါ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် အင်းလေးမြိုင် စက်မှုဇုန်အဖြစ် သက်မှတ်ထားပြီးသော ဧရိယာအတွင်း တည်ရှိပါသဖြင့် လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်မှုမရှိခြင်း၊ ထိုင်ဝမ်၊ ဂျပန်၊ မလေးရှားနိုင်ငံများသို့ တင်ပို့မည်ဖြစ်၍ မြို့နယ်ဒေသ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုမည်ဖြစ်ခြင်း၊ ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ရှိ လက်ခံထားသည့်နေရာ ဖြစ်ကြောင်း သက်ဆိုင်ရာဌာနများဖြစ်သည့် ငါးလုပ်ငန်းဦးစီးဌာနနှင့် မြိတ်ခရိုင် အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာနတို့မှ စိစစ်တင်ပြလာခဲ့ခြင်းတို့ကြောင့် Texchem Food (Myanmar) Ltd. မှ လုပ်ငန်းဆောင်ရွက်ခွင့် တင်ပြလာမှုအပေါ် သဘောထား တောင်းခံလာမှုအား တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား လာပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလွှာပါ လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ အဆိုပြုစီမံကိန်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေးနှင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင်ဆိုင်ရာ လေ့လာခြင်း (Initial Environmental Examination-IEE) လုပ်ငန်းကို ကုမ္ပဏီနှင့် ပါဝင်ပတ်သက်ခြင်းမရှိသည့် ဘာသာရပ်ဆိုင်ရာ ကျွမ်းကျင်ပညာရှင်များ ပါဝင်သော တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းဖြင့် ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ အဆိုပါ ဆန်းစစ်တွေ့ရှိချက်များကို အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု မဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်အတွက် ဆောင်ရွက်မည့် အစီအမံများ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ လုပ်ငန်းတွင် အသုံးပြုမည့် အအေးခန်းသုံး ပစ္စည်းများအား သတ်မှတ်စံချိန်စံညွှန်းနှင့် ကိုက်ညီသည့်ပစ္စည်းများကို အသုံးပြုရမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင် လေကောင်းလေသန့်ရရှိရေး၊ ပတ်ဝန်းကျင်သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်ထားရှိရန် နှင့် စက်ရုံပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ နှင့် ပန်း

အလုပင်များ စိုက်ပျိုးထားရှိရမည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သက်ဆိုင်ရာဝန်ကြီး ဌာနအသီးသီးမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်ဖြစ်ကြောင်း သဘောထား မှတ်ချက် ပြန်ကြားလာပါသည်။ **ကနဦး ပတ်ဝန်းကျင်ဆိုင်ရာ လေ့လာခြင်း IEE လုပ်ငန်းကို ဘာသာရပ်ဆိုင်ရာ ကျွမ်းကျင်ပညာရှင်များ ပါဝင်သော တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု စီမံချက် EMP ရေးဆွဲတင်ပြခြင်းနှင့် အစီအစဉ်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စည်းမျဉ်းစည်းကမ်းများနှင့် ဥပဒေများအား လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်းကုမ္ပဏီမှ ဝန်ခံကတိ တင်ပြထားပါသည်။** **နောက်ဆက်တွဲ-ခ**

(ဂ) **CMPလုပ်ငန်းများကြီးကြပ်ရေးကော်မတီ** မှ အဆိုပြုလွှာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ရေဆိုးများကို သန့်စင်သောစနစ်၊ မီးဘေး ကြိုတင်ကာကွယ်မှု အစီအစဉ်များ ဆောင်ရွက်ထားရှိမည့် အစီအမံများကို စိစစ်တွေ့ရှိရပါကြောင်း၊ ငါးလုပ်ငန်းဦးစီးဌာန၏ Food Safety & Quality Control ဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ တည်ဆောက်နိုင်ခြင်း၊ EU Standard နှင့်အညီ တည်ဆောက်နိုင်ခြင်း၊ ထုတ်လုပ်မည့် ကုန်ချောပမာဏနှင့်ကိုက်ညီအောင် ကုန်ကြမ်း ရရှိနိုင်ခြင်း စသည့် အားသာချက်များကြောင့် Texchem Food (Myanmar) Ltd. အား ခွင့်ပြုပေးသင့်ပြီး မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျှော့ချရေးကို အထောက်အကူ ပြုနိုင်မည်ဖြစ်၍ ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို လက်ခစားစနစ် (Contract Processing) နှင့် တန်ဘိုးမြှင့်ကုန်စည် (Value - Added) အဖြစ် ပြောင်းလဲထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်ခွင့်ကို အားပေးဆောင်ရွက်သင့်ကြောင်း CMP လုပ်ငန်းများ ကြီးကြပ်ရေး ကော်မတီမှ သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-ဂ**

(ဃ) **မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ** ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားလာပါသည်။ , **နောက်ဆက်တွဲ-ဃ**

၁၄။ ငွေကြေးအထောက်အထားအဖြစ် Texchem Food Sdn. Bhs သည် မလေးရှားနိုင်ငံရှိ Public Bank တွင် ၃၀-၉-၂၀၁၃ ရက်စွဲဖြင့် US$ ၁၁၂,၃၆၆.၃၃ ရှိကြောင်း တင်ပြထားပါသည်။ Mascot Industries Co., Ltd. သည် ရောဝတီဘဏ်တွင် ၃၀-၉-၂၀၁၃ ရက်စွဲဖြင့် ကျပ် ၉,၈၇၅ သန်း ရှိကြောင်း တင်ပြထားပါသည်။

၁၅။ မီးဘေးကြိုတင် ကာကွယ်ရေးအတွက် ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်အတွင်း မီးဘေးအန္တရာယ် ကာကွယ်ရေးအတွက် စည်းကမ်းချက်များကို ချမှတ်ထားရှိပြီး ၎င်းစည်းကမ်းချက်များကို ဝန်ထမ်းများအား တိကျစွာလိုက်နာ ဆောင်ရွက်ရန်လည်း စီမံထားကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအတွက် အရေးပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ

လေ့ကျင့်သင်ကြား ပေးမည် ဖြစ်ကြောင်း၊ လျှပ်စစ်နှင့်ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထား ရှိမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၆။ လုပ်ငန်းတည်နေရာပြမြေပုံ၊ Layout Plan ၊ စက်ရုံ အဆောက်အဦများ၏ ဓါတ်ပုံ၊ ထုတ်လုပ်မည့် ပစ္စည်းများ၏ ဓါတ်ပုံများကို တင်ပြထားပါသည်။ Water Treatment Processes Layout Plan ကို တင်ပြထားပါသည်။ ဝန်ထမ်းများ၏ အခြေခံလစာကို အနိမ့်ဆုံးလုပ်ခ သတ်မှတ်သည့် ဥပဒေထွက်ပေါ်လာပါက ထိုဥပဒေအရ လုပ်ခလစာများ ပေးဆောင်မည်ဖြစ်ကြောင်း၊ ရရှိလာမည့် အမြတ်ငွေမှ ၂% ကို Cooperate Social Responsibility (CSR) အတွက် ထည့်ဝင်မည်ဖြစ်ကြောင်း ၊ IEE, SIA, EMP တို့ကို သက်ဆိုင်ရာ ကျွမ်းကျင်အဖွဲ့အစည်းနှင့်ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စက်မှုဇုန်မြေနှင့် ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ သဘာဝ ဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုအတွက် အစီအမံများ ပြုလုပ်မည်ဖြစ်ကြောင်း၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ဥပဒေများ၊ နည်းဥပဒေ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီးဒေသန္တရ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနများတွင် မှတ်ပုံတင်ထားရှိမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၇။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ ဖြင့် ထုတ်ပြန်ထားသည့် စီးပွားရေး အမျိုးအစားတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာ ဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုး အစားဖြစ်ပါသည်။

၁၈။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၄-၂-၂၀၁၄ နေ့တွင် ကျင်းပ ပြုလုပ်သော (၈/၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၉။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် ပြည်ထောင်စုအစိုးရအဖွဲ့၏ ၂၀၁၄ခုနှစ် မတ်လ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေး အမှတ်စဉ် (၆/၂၀၁၄)မှ သဘောတူထားပါသည်။

၂၀။ **စိစစ်ချက်။** MASCOT INDUSTRIES CO., LTD. သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်အမှတ် (၂၉၇/၁၉၉၉)ဖြင့် လုပ်ငန်း ဆောင်ရွက်ခဲ့ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲခွင့် တင်ပြလာခြင်းကို ၅-၂-၂၀၁၄ ရက်နေ့တွင် ကျင်းပသော ၅/၂၀၁၄ ကော်မရှင် အစည်းအဝေးမှ ခွင့်ပြုခဲ့ပါသည်။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုမှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲဆောင်ရွက်ခြင်း ဖြစ်သည့်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုတွင် စီးပွားဖြစ်စတင်သည့် (၁-၃-၂၀၀၀) နေ့ မှစ၍ ၃ နှစ် အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များကို ခံစားပြီး ဖြစ်သဖြင့် တွက်ချက်မှုမှ ရရှိမည့် အခွန်များကို ပထမနှစ်မှ စတင်ဖော်ပြခြင်း ဖြစ်ပါသည်။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အခွန်ကင်းလွတ်ခွင့်၊ သက်သာခွင့်များ ရရှိပြီးဖြစ်ပါ၍ ခံစားခွင့်မရှိတော့ပါ။

မြန်မာကုမ္ပဏီမှ အခွန်စည်းကြပ်မှုကို (၂၀၁၃-၂၀၁၄) စည်းကြပ်နှစ်အထိ ပေးဆောင်ခဲ့ပြီးဖြစ်ပါသည်။ Mascot Industries Co., Ltd.၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ် (မိတ္တူ)၊ Stenrich Assets Holdings Sdn. Bhd. မှ Texchem Food Sdn. Bhs သို့ အမည်ပြောင်းလဲခြင်း အထောက်အထား တင်ပြထားပါသည်။

၂၀။ **ဆုံးဖြတ်ရန်အချက်။** မြန်မာနိုင်ငံ Mascot Industries Co., Ltd. မှ(၁၀%) နှင့် မလေးရှားနိုင်ငံ Texchem Food Sdn. Bhd. မှ (၉၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီး မြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Texchem Food (Myanmar) Ltd. တည်ထောင်၍ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ မြိတ်မြို့နယ်၊ မြိတ်တောင်ကျေးရွာ၊ အင်းလေးမြိုင်စက်မှုဇုန် ၊အကွက်အမှတ် ၃၀၇/၃၆၆(က)၊ ၃၀၇/၄၂၀ (ခ) ရှိ မြေ ၄.၀၄ ဧက (၁၆,၃၄၉.၃၁၄၄ စတုရန်းမီတာ) နှင့် အဆောက်အဦတို့ကို ငှားရမ်း၍ ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို တန်ဖိုးမြှင့်ကုန်စည်အဖြစ် ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပင်လယ်ရေထွက် ကုန်ပစ္စည်းများ ကို လက်ခစားစနစ်ဖြင့် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုတင်ပြလာခြင်းအပေါ် လမ်းညွှန်မှုခံယူအပ် ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ချိုချိုဝင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Texchem Food Sdn. Bhd. | (၁) Mr. Fumihiko Konishi<br>Merchant<br>Japanese<br>P.P No. MZ-0621373 | Villa Primavera 51 Jalan Jesselton 10450 Penang. |
| | | (၂) Mr. Brian Tan Guan Hooi<br>Merchant<br>Malaysian<br>P.P No. A- 19876264 | 8 Pesiaran Bertam 6/1 Penan Golf Resort, Bertam 13200 Kepala Batas Penang |
| | | (၃) Mr. Goh Chin Meng<br>Merchant<br>Malaysian<br>P.P No. A- 24634935 | 14 Lebuh Bukit Kecil Satu Taman Sri Nibong 11900 Bayan Lepas Pulau Pinang |
| | | (၄) Mr. Ng Bak Kuang<br>Merchant<br>Malaysian<br>P.P No. A- 27432700 | 2668 Jalan Megat Harun Taman Keenways 14000 Bukit Mertajam Penang |
| ၂။ | Mascot Industries Co., Ltd. | (၅) U Maung Sitt @ Chew Won Min<br>Merchant<br>Myanmar<br>12/ La Ma Ta (Naing) 016221 | No.22, Ground Floor, Nwethake Street, Ahlone Township, Yangon Region, Myanmar. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၈၇၃၉၇

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးခင်ထွန်းမြင့်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို တန်ဖိုးမြင့် ကုန်စည်အဖြစ် ထုတ်လုပ်ခြင်း လုပ်ငန်းနှင့် ပင်လယ်ရေထွက် ကုန်ပစ္စည်းများကို လက်ခစား စနစ်ဖြင့် ထုတ်လုပ်ခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -